**အကြောင်းအရာ။ Hlaing Inland Terminal and Logistics Co., Ltd. မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ထောက်ပံ့သယ်ယူပို့ဆောင်ရေး၊ ကုန်သေတ္တာ သိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်း နှင့်စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Hlaing Inland Terminal and Logistics Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးအောင်မင်းဟန် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက် (မြန်မာ) ၅၁ %<br>- Ever Flow River Group of Companies (Public) Limited (မြန်မာ) ၄၉ % |
| | လုပ်ငန်းအမျိုးအစား | - ထောက်ပံ့သယ်ယူပို့ဆောင်ရေးနှင့်ကုန်သေတ္တာသိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေတိုင်းရပ်ကွက်အမှတ်-၁၅၊ မြေကွက်အမှတ်-၁/B၊ ယောအတွင်းဝန် ဦးဖိုးလှိုင်လမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/ | - လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်<br>- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်(ဆိပ်ခံတံတားတည်ဆောက်ရန်) |
| | မြေအကျယ်အဝန်း | - ၄၀ ဧက<br>- ရေဒေသဧရိယာ ၂.၆၇ ဧက |
| | အဆောက်အဦအရေအတွက် | - |
| | နှစ်စဉ်မြေငှားရမ်းခ | - ၁ စတုရန်းမီတာ ကျပ် ၄,၀၅၀<br>- ရေဒေသလွှမ်းခြုံဧရိယာ ၁ စတုရန်းမီတာ ကျပ် ၅၀၀ |
| | မြေ/အဆောက်အဦငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ၅၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၃ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၆၂,၀၀၀.၀၀ သန်း: (US$ ၃.၁၆၇ သန်းအပါအဝင်) |

| **ထည့်ဝင်မည့်အမျိုးအစား** | ကျပ်(သန်း) | US$ (သန်း) | စုစုပေါင်းကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၄,၀၁၀.၈၈ | | ၄,၀၁၀.၈၈ |
| စက်နှင့် စက်ပစ္စည်း (ပြည်ပ) | - | ၃.၁၆၇ | ၄,၁၁၇.၅၀ |
| မြေငှားရမ်းခ | ၃၀,၅၆၅.၀၄ | - | ၃၀,၅၆၅.၀၄ |
| အဆောက်အဦဆောက်လုပ်မှု | | | |
| ကုန်ကျစရိတ် | ၂,၃၉၆.၉၇ | - | ၂,၃၉၆.၉၇ |
| ပရိဘောဂနှင့်လုပ်ငန်းသုံး | | | |
| ပစ္စည်းများ | ၄၆.၀၀ | | ၄၆.၀၀ |
| အခြား | ၁၉,၈၆၂.၆၂ | | ၁၉,၈၆၂.၆၂ |
| **စုစုပေါင်း** | **၅၇,၈၈၂.၅၀** | **၃.၁၆၇** | **၆၂,၀၀၀.၀၀** |

| | | |
|---|---|---|
| ၇။ | ဝန်ဆောင်မှုပေးမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| ၈။ | ဝန်ဆောင်ခနှုန်း | - ပြည်တွင်း ၁၀၀% |

| စဉ် | အမျိုးအမည် | ယူနစ် | ဈေးနှုန်း (ကျပ်) |
|---|---|---|---|
| (က) | **ကုန်တွင်းဆိပ်ကုန်သေတ္တာ ကုန်းပတ်ဖြတ်ကျော်ခ** | TEUs | ၈၁,၀၀၀ |
| (ခ) | **ကုန်သေတ္တာ အတင်/အချ** | | |
| | ကုန်ပါ | TEUs | ၆,၅၀၀ |
| | အခွံ | TEUs | ၁၃,၀၀၀ |
| (ဂ) | **ကုန်သေတ္တာထားသိုခ** | | |
| | ကုန်သေတ္တာလွင်ပြင်ထားသိုခ (ကုန်ပါ) | TEUs | ၅,၄၀၀ |
| | ကုန်သေတ္တာလွင်ပြင်ထားသိုခ (အခွံ) | TEUs | ၁,၃၅၀ |
| | ပို့ကုန်/သွင်းကုန်ပစ္စည်းထိန်းသိမ်း ထားသိုရာနေရာခ/ဂိုထောင်ငှားခ | TEUs | ၃၀၀ |
| (ဃ) | **အအေးခန်းကုန်သေတ္တာထားသိုခ** | TEUs | ၂၁,၆၀၀ |
| (င) | **ကုန်သေတ္တာသန့်ရှင်းခ** | | |
| | ပုံမှန်သန့်ရှင်းခ | TEUs | ၁၅,၀၀၀ |
| | ဓါတုဆေးရည်နှင့် သန့်ရှင်းခ | TEUs | ၂၀,၀၀၀ |
| | အထူးသန့်ရှင်းခ | TEUs | ၂၅,၀၀၀ |
| (စ) | **ကုန်တင်ဝန်ချီစက် အသုံးပြုခ** | | |
| | ၃ တန် | HOUR | ၁၀,၀၀၀ |
| | ၅ တန်/ ၇ တန် | HOUR | ၁၅,၀၀၀ |

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းခန့်ထားမှု | |

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဦးရေ** | ၁၀၃ | - |
| **အမြင့်ဆုံးလစာ** | ၄,၀၀၀,၀၀၀ | - |
| **အနိမ့်ဆုံးလစာ** | ၂၅၀,၀၀၀ | - |

| | | |
|---|---|---|
| ၁၀။ | အခြားတင်ပြချက်များ | - ငွေကြေးအထောက်အထားအဖြစ် ဦးအောင်ကျော်ဦးနှင့် ဦးအောင်မင်းဟန် အမည်ဖြင့် KBZ Bank ၌ ၂၉-၃-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၅,၂၉၂,၀၅၂.၆၆ ရှိကြောင်း တင်ပြထားပါသည်။<br>- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Hlaing Inland Terminal and Logistics Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ လန်းပြီပင်လယ်ရေကြောင်း ကုမ္ပဏီ လီမိတက်နှင့် Ever Flow River Group of Companies (Public) Limited တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)နှင့် Hlaing Inland Terminal and Logistics Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင် |

| | | |
|---|---|---|
| | | ကဒ်တို့ကို ပူးတွဲတင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - Hlaing Inland Terminal and Logistics Co.,Ltd. မှ ထောက်ပံ့သယ်ယူ ပို့ဆောင်ရေး၊ ကုန်သေတ္တာသိုလှောင်ရေး စခန်းနှင့် Bonded Warehouse လုပ်ငန်း ဆောင်ရွက်ရန်အတွက် လိုအပ်သော ဆိပ်ခံတံတားတည်ဆောက်ရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း) နှင့် မြေငှားစာချုပ် (မူကြမ်း) တို့အား တင်ပြထားပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၅(အ) / ခ-၀၁၄/၂၀၁၈(၁၂၇)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် မေပြီ လ ၁၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Hlaing Inland Terminal and Logistics Co., Ltd. မှ ထောက်ပံ့သယ်ယူပို့ဆောင်ရေး၊ ကုန်သေတ္တာသိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Hlaing Inland Terminal and Logistics Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ယောအတွင်းဝန် ဦးဖိုးလှိုင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်-၁၅၊ မြေကွက်အမှတ်-၁/B ရှိ မြေဧရိယာ ၄၀ ဧကတွင် ထောက်ပံ့သယ်ယူပို့ဆောင်ရေး၊ ကုန်သေတ္တာသိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Hlaing Inland Terminal and Logistics Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Hlaing Inland Terminal and Logistics Co., Ltd. ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း)၊ လန်းပြီပင်လယ်ရေကြောင်း ကုမ္ပဏီလီမိတက်နှင့် Ever Flow River Group of Companies (Public) Limited တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)၊ လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်နှင့် Hlaing Inland Terminal and Logistics Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) နှင့် Hlaing Inland Terminal and Logistics Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်ကဒ်တို့ကို တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၃ နှစ် ဖြစ်ပြီး စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃.၁၆၇ သန်း အပါအဝင် ကျပ် ၆၂,၀၀၀.၀၀ သန်းဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **ကျပ် (သန်း)** | **US$ (သန်း)** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|---|---|
| ငွေသား | ၄,၀၁၀.၈၈ | | ၄,၀၁၀.၈၈ |
| စက်နှင့် စက်ပစ္စည်း (ပြည်ပ) | - | ၃.၁၆၇ | ၄,၁၁၇.၅၀ |
| မြေငှားရမ်းခ | ၃၁,၅၆၅.၀၄ | - | ၃၁,၅၆၅.၀၄ |
| အဆောက်အဦဆောက်လုပ်မှု ကုန်ကျစရိတ် | ၂,၃၉၆.၉၇ | - | ၂,၃၉၆.၉၇ |
| ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၄၆.၀၀ | - | ၄၆.၀၀ |
| အခြား | ၁၉,၈၆၂.၆၂ | - | ၁၉,၈၆၂.၆၂ |
| **စုစုပေါင်း** | **၅၇,၈၈၂.၅၀** | **၃.၁၆၇** | **၆၂,၀၀၀.၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၀၃ ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၄,၀၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ပထမနှစ်တွင် ဝန်ဆောင်မှုပေးမည့် အမျိုးအမည်၊ ယူနစ်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ယူနစ် | ဈေးနှုန်း (ကျပ်) |
|---|---|---|---|
| (က) | **ကုန်တွင်းဆိပ်ကုန်သေတ္တာ ကုန်းပတ်ဖြတ်ကျော်ခ** | TEUs | ၈၁,၀၀၀ |
| (ခ) | **ကုန်သေတ္တာ အတင်/အချ** | | |
| | ကုန်ပါ | TEUs | ၆,၅၀၀ |
| | အခွံ | TEUs | ၁၃,၀၀၀ |
| (ဂ) | **ကုန်သေတ္တာထားသိုခ** | | |
| | ကုန်သေတ္တာလွင်ပြင်ထားသိုခ (ကုန်ပါ) | TEUs | ၅,၄၀၀ |
| | ကုန်သေတ္တာလွင်ပြင်ထားသိုခ (အခွံ) | TEUs | ၁,၃၅၀ |
| | ပို့ကုန်/သွင်းကုန်ပစ္စည်းထိန်းသိမ်းထားသိုရာနေရာခ/ဂိုထောင်ငှားခ | TEUs | ၃၀၀ |
| (ဃ) | **အအေးခန်းကုန်သေတ္တာထားသိုခ** | TEUs | ၂၁,၆၀၀ |
| (င) | **ကုန်သေတ္တာသန့်ရှင်းခ** | | |
| | ပုံမှန်သန့်ရှင်းခ | TEUs | ၁၅,၀၀၀ |
| | ဓါတုဆေးရည်နှင့် သန့်ရှင်းခ | TEUs | ၂၀,၀၀၀ |
| | အထူးသန့်ရှင်းခ | TEUs | ၂၅,၀၀၀ |
| (စ) | **ကုန်တင်ဝန်ချီစက် အသုံးပြုခ** | | |
| | ၃ တန် | HOUR | ၁၀,၀၀၀ |
| | ၅ တန်/ ၇ တန် | HOUR | ၁၅,၀၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသတွင် ကမ်းရိုးတန်းနှင့် ပြည်တွင်းသွား ရေယာဉ်များဆိုက်ကပ်နိုင်မည့် ခေတ်မီဆိပ်ခံတံတားတည်ဆောက်ပြီး ကုန်သေတ္တာများနှင့် အထွေထွေကုန်စည်များကိုင်တွယ်ခြင်း၊ သိုလှောင်ဖြန့်ဖြူးခြင်း၊ ကုန်သေတ္တာစခန်း တည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ပေးခြင်း စသည့်ဆိပ်ကမ်း ဝန်ဆောင်မှုလုပ်ငန်းများနှင့် ဆက်စပ်စီးပွားရေးလုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Hlaing Inland Terminal and Logistics Co., Ltd. တို့အကြား ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်များ ချုပ်ဆိုရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ)**

၇။ ငွေကြေးအထောက်အထားအဖြစ် ဦးအောင်ကျော်ဦးနှင့် ဦးအောင်မင်းဟန်အမည်ဖြင့် KBZ Bank ၌ ၂၉-၃-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၅,၂၉၂,၀၅၂.၆၆ ရှိကြောင်း တင်ပြထားပါသည်။

၈။ အဆိုပြုလုပ်ငန်းအား ၂၀၁၈ ခုနှစ် မတ် လ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) Hlaing Inland Terminal and Logistics Co.,Ltd. မှ ထောက်ပံ့သယ်ယူ ပို့ဆောင်ရေး၊ ကုန်သေတ္တာသိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်း ဆောင်ရွက်ရန်အတွက် လိုအပ်သော ဆိပ်ခံတံတားတည်ဆောက်ရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း) နှင့် မြေငှားစာချုပ် (မူကြမ်း) တို့အား တင်ပြထားပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဂ) ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Hlaing Inland Terminal and Logistics Co.,Ltd.မှ ထောက်ပံ့သယ်ယူပို့ဆောင်ရေး၊ ကုန်သေတ္တာသိုလှောင်ရေးစခန်းနှင့် Bonded Warehouse လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ

M40379
23.3.2018



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/(မြေ-MPA)/၂၀၁၈( ၁၆၁ )
ရက်စွဲ ၊၂၀၁၈ ခုနှစ်၊ မတ်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၃.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက- ၅(အ)/၀၁၄/၂၀၁၈(၀၈၇)

၁။ Hlaing Inland Terminal and Logistics Co., Ltd. က ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ် ၁၅/၁-B ရှိ မြေဧရိယာ (၄၀)ဧကတွင် ထောက်ပံ့သယ်ယူပို့ဆောင်ရေး၊ ကုန်သိုလှောင်ရေးစခန်း လုပ်ငန်းနှင့် Bonded Warehouse အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းအပေါ် သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာသည့် ကိစ္စဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ Hlaing Inland Terminal and Logistics Co., Ltd. မှ ကျောထောက်နောက်ခံမြေတွင် Bonded Warehouse ဆောင်ရွက်မည့်ကိစ္စသည် စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန၊ အကောက်ခွန်ဦးစီးဌာနမှ ဆောင်ရွက်ခွင့်ပြုနိုင်သော လုပ်ငန်းဖြစ်ပါသည်။

၃။ Hlaing Inland Terminal and Logistics Co., Ltd. သည် လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ် ၁၅/၁-B ရှိ မြေဧရိယာ (၄၀) ဧကကို ကျောထောက်နောက်ခံပြု၍ လှိုင်မြစ်ကမ်း နဖူးတွင် ကုန်သေတ္တာကိုင်တွယ်နိုင်သည့် ခေတ်မီ ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်မည့်နေရာသည် ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်လျက် ရှိပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ရေဒေသဧရိယာအတွင်း တည်ရှိနေပြီး လှိုင်မြစ်ကမ်းနဖူးတွင် အလျား ၆၀၀ ပေ၊ အကျယ် ၇၄ ပေအရွယ်ရှိ ဆိပ်ခံတံတားနှင့် အလျား ၁၂၀ပေ၊ အကျယ် ၃၆ ပေအရွယ် ချဉ်းကပ်တံတား (၃)စင်း ပါဝင်သော ကုန်သေတ္တာကိုင်တွယ်နိုင်သည့် ခေတ်မီ ကွန်ကရစ် ဆိပ်ခံတံတားကို တည်ဆောက်မည်ဖြစ်သဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီမံခန့်ခွဲ ပိုင်ခွင့်ရှိသော ရေဒေသ ဧရိယာ ၁၁၆၄၀၀ စတုရန်းပေ (၁၀၈၁၄ စတုရန်းမီတာ = ၂.၆၇ ဧက) ကို အသုံးပြုသွားရန်ရှိကြောင်း တွေ့ရှိရပါသည်။

\\Hotdata\\WATER\2018\PA SA (3) PROJECT\MPA\PA SA (LAND).doc

၄။ ထို့ကြောင့် လှိုင်မြစ်ကမ်းနဖူးရှိ ဆိပ်ကမ်းနယ်နိမိတ်အတွင်း ကျရောက်ရှိသော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသဧရိယာ ၂.၆၇ ဧကအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ၁၅၀ သိန်း နှုန်းဖြင့် ကျသင့်သည့် မြေအသုံးချမှု ပရီမီယံကြေး ငွေကျပ် ၄၀,၀၅၀,၀၀၀/- (ကျပ် သန်းလေးဆယ့်ငါးသောင်းတိတိ) နှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသ လွှမ်းခြုံဧရိယာ ၁၁၆၄၀၀ စတုရန်းပေ (၁၀၈၁၄ စတုရန်းမီတာ) အတွက် မြေဧရိယာ တစ်စတုရန်းမီတာလျှင် ငွေကျပ် ၅၀၀ ကျပ်နှုန်းဖြင့် ကျသင့်သည့် လစဉ်မြေငှားရမ်းခ ငွေကျပ် ၅၄၀၇၀၀၀/- (ကျပ်ငါးဆယ့်လေးသိန်း ခုနစ်ထောင် တိတိ) ပေးဆောင်သွားရမည်ဖြစ်ပါသည်။

၅။ ထို့အပြင် Hlaing Inland Terminal and Logistics Co., Ltd. ၏ ခေတ်မီကွန်ကရစ်ဆိပ်ခံတံတားပေါ်တွင် ဝန်ချီစက်များ အသုံးပြု၍ ကုန်သေတ္တာကိုင်တွယ်နိုင်သဖြင့် ကုန်တင်/ချလုပ်ငန်းများ လျင်မြန်စွာ ဆောင်ရွက်နိုင်ခြင်း၊ လွင်ပြင်တွင် ခေတ်မီကုန်ကိုင်တွယ် စက်ကရိယာများဖြင့် ကုန်သေတ္တာသိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ပေးနိုင်ခြင်း၊ မိုးလုံလေလုံကုန်သိုလှောင်ရုံများ တည်ဆောက်ကာ စက်မှုဇုန်များမှ ထွက်ရှိလာမည့် ကုန်စည်များအား သိုလှောင်ဖြန့်ဖြူးရေးလုပ်ငန်းများ ဆောင်ရွက်ပေးနိုင်ခြင်း၊ One Stop Service ကဲ့သို့ ခေတ်ကာလနှင့်အညီ ဆိပ်ကမ်းသုံးစွဲသူများ၏ လိုအပ်ချက်များကို တစ်နေရာတည်းတွင် ဖြည့်ဆည်းဆောင်ရွက်ပေးနိုင်ခြင်းစသည့် အရည်အသွေး မြင့်မားသော ဆိပ်ကမ်းဝန်ဆောင်မှုများကို ဖြည့်ဆည်းဆောင်ရွက်ပေးနိုင်မည် ဖြစ်ကြောင်းတွေ့ရှိရပါသည်။

၆။ သို့ဖြစ်ပါ၍ Hlaing Inland Terminal and Logistics Co., Ltd. က ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ယောအတွင်းဝန် ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ် ၁၅/၁-B ရှိ မြေဧရိယာ (၄၀) ဧကကို ကျော်ထောက်နောက်ခံပြု၍ လှိုင်မြစ်ကမ်းနဖူးရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသတွင် ကမ်းရိုးတန်းနှင့် ပြည်တွင်းသွားရေယာဉ်များ ဆိုက်ကပ်နိုင်မည့် ခေတ်မီဆိပ်ခံတံတားတည်ဆောက်ပြီး ကုန်သေတ္တာများနှင့် အထွေထွေကုန်စည်များကိုင်တွယ်ခြင်း၊ သိုလှောင်ဖြန့်ဖြူးခြင်း၊ ကုန်သေတ္တာစခန်း တည်ဆောက်၍ ကုန်သေတ္တာသိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ပေးခြင်း စသည့်ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများနှင့် ဆက်စပ်စီးပွားရေးလုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်ခွင့် ပြုခြင်းအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ မြေအသုံးချမှု ပရီမီယံကြေး ငွေကျပ် ၄၀,၀၅၀,၀၀၀/- (ကျပ်သန်းလေးဆယ့် ငါးသောင်းတိတိ) ကို လည်းကောင်း၊ လစဉ် မြေငှားရမ်းခ ငွေကျပ် ၅,၄၀၇,၀၀၀/- (ကျပ် ငါးဆယ့်လေးသိန်း ခုနစ်ထောင် တိတိ) ကို လည်းကောင်း ပေးဆောင်စေရမည်ဖြစ်ပြီး

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Hlaing Inland Terminal and Logistics Co., Ltd. တို့အကြား ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်များ ချုပ်ဆိုရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ